# CECA Gold Co., Ltd. နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှု မှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်းလျှောက်ထားလွှာ တင်ပြလာခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာအပေါ် အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အား မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းမှ တင်ပြလာခြင်း | | ၁၁-၉-၂၀၁၈ | |
| ၄ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း | ၁၇-၉-၂၀၁၈ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးသို့ တင်ပြခြင်း | ၁၅-၁၀-၂၀၁၈ (၃၂/၂၀၁၈) | | |
| ၆ | လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၁၈-၁၀-၂၀၁၈ | ၃၁-၁၀-၂၀၁၈ | ၁၃ ရက် |
| ၇ | ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၁၇-၁၀-၂၀၁၈ | ၁-၁၁-၂၀၁၈ | ၁၅ ရက် |
| ၈ | ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ သို့ သဘောထားတောင်းခံခြင်း | ၁၇-၁၀-၂၀၁၈ | ၁၃-၁၂-၂၀၁၈ | ၅၇ ရက် |
| ၉ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၂၆-၁၀-၂၀၁၈ | | |
| ၁၀ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှလိုအပ်ချက်များကိုပြန်လည်ပေးပို့ခြင်း | ၁၄-၁၁-၂၀၁၈ | | |
| ၁၁ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁/၂၀၁၉ (၁၁-၁-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | ၅၈ ရက် | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

| | |
|---|---|
| ကုမ္ပဏီအမည် | CECA Gold Co., Ltd. |
| လုပ်ငန်းအမျိုးအစား | Importation, storage, distribution and sales of LPG by using pipeline jetty |
| PAT အကြိမ်/ရက်စွဲ | ၃၂/၂၀၁၈ (၁၅-၁၀-၂၀၁၈) |

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|
| ၁။ | လုပ်ငန်းအမျိုးအစားအား စိစစ်ပြီး ပြန်လည်တင်ပြရန်။ | ပြီး | |
| ၂။ | အကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်း သဘောတူစာချုပ်တွင် ရင်းနှီးမြှုပ်နှံမှုတန်ဖိုးဖော်ပြ၍ ပြင်ဆင်ချုပ်ဆိုသွားရန်။ | ပြီး | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် CECA Gold Co., Ltd. တည်ထောင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ Importation,storage, distribution and sales of LPG by using pipeline jetty လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - CECA Gold Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးရပ်ကိုကြိုင်(ခ)ဦးသန်းအောင် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Jofu Holdings Pte. Ltd.<br>(စင်ကာပူသမ္မတနိုင်ငံ) ၇၀%<br>ဦးရပ်ကိုကြိုင်(ခ)ဦးသန်းအောင်<br>(မြန်မာနိုင်ငံ) ၂၀%<br>ဦးမြင့်မြတ်ဟိန်း<br>(မြန်မာနိုင်ငံ) ၁၀% |
| | လုပ်ငန်းအမျိုးအစား | - Importation, storage, distribution and sales of LPG by using pipeline jetty |
| ၂။ | တည်နေရာ | - ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်၊ သီတာမြိုင်ရပ်ကွက်၊ သဘော်ဖျက်စက်ရုံ (သီလဝါ)၊ မြေကွက်အမှတ်-၆၀၇၊ ဂရံ၀င်း၊ ဦးပိုင်အမှတ်-၁/င၊ ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း |
| | မြေအကျယ်အဝန်း | - သဘော်ဖျက်စက်ရုံ(သီလဝါ) ရှိ စုစုပေါင်းမြေ ၂၅ ဧကအနက်မှ ၈ ဧက(၃၂,၃၇၁.၆၉ စတုရန်းမီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - US$ ၁၄၅,၆၇၂.၆၁(တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၄.၅ နှုန်း) |
| | မြေအသုံးပြုခွင့်သက်တမ်း | - ၅၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ၅၀ နှစ် (၁၀ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် |

<table>
<tr><td>၆။</td><td>စုစုပေါင်း မတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား<br><br>ငွေသား<br>စက်ပစ္စည်း<br>စုစုပေါင်း</td><td>- US$ ၃၆ သန်း<br>
<table>
<tr><th>မြန်မာ US$(သန်း)</th><th>နိုင်ငံခြား US$(သန်း)</th><th>စုစုပေါင်း US$(သန်း)</th></tr>
<tr><td>၁၀.၈</td><td>၇.၂၂</td><td>၁၈.၀၂</td></tr>
<tr><td>-</td><td>၁၇.၉၈</td><td>၁၇.၉၈</td></tr>
<tr><td>၁၀.၈</td><td>၂၅.၂၀</td><td>၃၆.၀၀</td></tr>
</table>
-စုစုပေါင်းမတည်ငွေရင်း US$ ၃၆ သန်း တွင် ချေးငွေ US$ ၂၅ သန်း (စုစုပေါင်း ရင်းနှီးမြှုပ်နှံ မှု ပမာဏ၏ ၆၉.၄၄ % ) ပါဝင်ပါသည်။</td></tr>
<tr><td>၇။</td><td>ရောင်းချမည့်စနစ်</td><td>-ပြည်တွင်း (၁၀၀%)</td></tr>
<tr><td>၈။</td><td>နှစ်စဉ်ပျမ်းမျှရောင်းချမည့် အရေအတွက်နှင့်ဈေးနှုန်း</td><td>
<table>
<tr><th></th><th>တစ်ယူနစ် ဈေးနှုန်း(ကျပ်)</th><th>ရောင်းချမည့်အရေအတွက်(kg)</th></tr>
<tr><td>1st Class လက်ကား</td><td>၁,၁၀၀ ကျပ်</td><td>၇,၇၂၂,၀၀၀ kg</td></tr>
<tr><td>လက်လီ</td><td>၁,၂၀၀ ကျပ်</td><td>၁၁,၅၈၃,၀၀၀ kg</td></tr>
<tr><td>2nd Class လက်ကား</td><td>၁,၂၀၀ ကျပ်</td><td>၇,၇၂၂,၀၀၀ kg</td></tr>
<tr><td>လက်လီ</td><td>၁,၃၀၀ ကျပ်</td><td>၁၁,၅၈၃,၀၀၀ kg</td></tr>
</table></td></tr>
<tr><td>၉။</td><td>ဝန်ထမ်းခန့်ထားမှု</td><td>
<table>
<tr><th></th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr>
<tr><td>ဦးရေ</td><td>၁၁၁ ဦး</td><td>၃ ဦး</td></tr>
<tr><td>အမြင့်ဆုံးလစာ</td><td>၁,၂၀၀,၀၀၀ ကျပ်</td><td>US$ ၇,၀၀၀</td></tr>
<tr><td>အနိမ့်ဆုံးလစာ</td><td>၁၅၀,၀၀၀ ကျပ်</td><td>US$ ၃,၀၀၀</td></tr>
</table></td></tr>
<tr><td>၁၀။</td><td>CSR</td><td>- နှစ်စဉ်အသားတင်အမြတ်၏ ၂% အား သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။</td></tr>
</table>

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(စ)/ခ-၀၁၅/၂၀၁၉(၀၀၇)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် CECA Gold Co., Ltd. တည်ထောင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ Importation, storage, distribution and sales of LPG by using pipeline jetty လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Jofu Holding Pte. Ltd. (စင်္ကာပူသမ္မတနိုင်ငံ) မှ ၇၀%၊ ဦးရဲဝင်းကိုကြိုင် (ခ) ဦးသန်းအောင် (မြန်မာနိုင်ငံ) မှ ၂၀% နှင့် ဦးမြင့်မြတ်ဟိန်း (မြန်မာနိုင်ငံ) မှ ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် CECA Gold Co., Ltd. တည်ထောင်ပြီး ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်၊ သီတာမြိုင်ရပ်ကွက်၊ သဘော်ဖျက်စက်ရုံ (သီလဝါ)၊ မြေကွက်အမှတ်-၆၀၇၊ ဂရံဝင်း၊ ဦးပိုင်အမှတ်-၁/၈၊ ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Importation, storage, distribution and sales of LPG by using pipeline jetty လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း၊ Star High Co., Ltd. နှင့် CECA Gold Co., Ltd. တို့အကြား LPG တင်သွင်း/ဖြန့်ဖြူးခြင်းလုပ်ငန်းအား အကျိုးတူစီးပွားရေးလုပ်ငန်းပူးပေါင်းဆောင်ရွက်မှု သဘောတူစာချုပ်(မူကြမ်း)၊ အဆိုပါစာချုပ်(မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း၊ Star High Co., Ltd. နှင့် CECA Gold Co., Ltd. တို့အကြား ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၁၉ ရက်နေ့ ရက်စွဲဖြင့် လက်မှတ်ရေးထိုးချုပ်ဆိုထားသည့် နှစ်ဦးနှစ်ဖက်သဘောတူညီချက်မှတ်တမ်း (MOA) တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၁၀ နှစ် နှစ်ကြိမ် သက်တမ်းတိုးမည် ဖြစ်ပါသည်။ စုစုပေါင်းမြေ ၂၅ ဧက အနက်မှ ၈ ဧက (၃၂,၃၇၀.၆၉ စတုရန်းမီတာ) အား ငှားရမ်းမည်ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခမှာ US$ ၁၄၅,၆၇၂.၆၁ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၄.၅ နှုန်း ဖြစ်ပါသည်။

**ကန့်သတ်**

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ်ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏ US$ ၃၆ သန်းတွင် ချေးငွေ US$ ၂၅ သန်းပါဝင်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | မြန်မာ US$(သန်း) | နိုင်ငံခြား US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|
| ငွေသား | ၁၀.၈ | ၇.၂၂ | ၁၈.၀၂ |
| စက်ပစ္စည်း | - | ၁၇.၉၈ | ၁၇.၉၈ |
| **စုစုပေါင်း** | **၁၀.၈** | **၂၅.၂၀** | **၃၆.၀၀** |

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းချေးငွေ US$ ၂၅ သန်း (ရင်းနှီးမြှုပ်နှံမှုစုစုပေါင်း၏ ၆၉.၄၄ %) ကို အတိုးနှုန်း ၇% ဖြင့် ချေးယူမည်ဖြစ်ပြီး ၇ နှစ် အတွင်း ပြန်လည်ပေးဆပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၁၁၁ ဦး နှင့် ပြည်ပဝန်ထမ်း ၃ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၅၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာမှာ ၁,၂၀၀,၀၀၀ ကျပ် ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၃,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၇,၀၀၀ ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းမှ သိုလှောင်မှုပမာဏ ၃,၃၀၀ $m^3$ ရှိ LPG သိုလှောင်ကန် ၄ လုံးဖြင့် သိုလှောင်မည်ဖြစ်ပြီး ပြည်တွင်းသို့ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ရောင်းချမည့်အရေအတွက်နှင့်ဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| ရောင်းချမည့်အမျိုးအစား | | တစ်ယူနစ် ဈေးနှုန်း(ကျပ်) | ရောင်းချသည့် အရေအတွက်(kg) |
|---|---|---|---|
| 1st Class | လက်ကား | ၁,၁၀၀ ကျပ် | ၇,၇၂၂,၀၀၀ kg |
| | လက်လီ | ၁,၂၀၀ ကျပ် | ၁၁,၅၈၃,၀၀၀ kg |
| 2nd Class | လက်ကား | ၁,၂၀၀ ကျပ် | ၇,၇၂၂,၀၀၀ kg |
| | လက်လီ | ၁,၃၀၀ ကျပ် | ၁၁,၅၈၃,၀၀၀ kg |

၉။ လုပ်ငန်းနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန နှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားစာများအား **နောက်ဆက်တွဲ(က)၊ (ခ) နှင့် (ဂ)** တို့ဖြင့် တင်ပြထားပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် CECA Gold Co., Ltd. အမည်ဖြင့် နိုင်ငံခြားကုန်သွယ်မှုဘဏ် ၌ ၂-၂-၂၀၁၈ ရက်စွဲဖြင့် US$ ၂၅,၂၆၆ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းအား ၂၀၁၈ခုနှစ် အောက်တိုဘာလ ၁၅ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၂/၂၀၁၈) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုစာရင်းတွင် မပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် LPGတင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူး၊ ရောင်းချခြင်းလုပ်ငန်းအား ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်-၁၊၂(ဘီ) ရှိမြေတွင် Apex Union Gas Co., Ltd. နှင့် မြေကွက်အမှတ်-၃၁၊ ၃၂(စီ) ရှိမြေတွင် KMA SIAM Limited တို့အား ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်.**

၁၃။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် CECA Gold Co., Ltd. တည်ထောင်ပြီး Importation, storage, distribution and sales of LPG by using pipeline jetty လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ- မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ



| ဝင်စာအမှတ် | M4 - 1089 |
|---|---|
| ရက်စွဲ | 5.11.18. |

နောက်ဆက်တွဲ- က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊MOEE-၂/(၁၅)/(သဘောထား)/(၁၇၅၈)/၂၀၁၈

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ၊ အောက်တိုဘာလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ ခ-၁၁၅/ ၂၀၁၈(၃၅၆)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CECA Gold Co.,Ltd တည်ထောင်ပြီး ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်၊ သီတာမြိုင်ရပ်ကွက်၊ သဘော်ဖျက်စက်ရုံ (သီလဝါ)၊ မြေကွက်အမှတ်-၆၀၇၊ ဂရံဝင်း၊ ဦးပိုင်အမှတ်-၁/ ၄၊ ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် LPG Terminal တည်ဆောက်၍ LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ခြင်းနှင့်စပ်လျဉ်း၍ အဆိုပြုချက်ပါလုပ်ငန်းအား ကန့်ကွက်ရန် ရှိ၊ မရှိ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

၂။ အထက်အပိုဒ်(၁)တွင်ပါရှိသည့် မြေကွက်အမှတ်-၆၀၇၊ ဂရံဝင်း၊ ဦးပိုင်အမှတ်-၁/ ၄တွင် မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ Star High Group Co.,Ltd မှလည်း LPG တင်သွင်းဖြန့်ဖြူးရေးလုပ်ငန်းများ လုပ်ကိုင်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားခဲ့သဖြင့် တင်ပြလာသည့် Layout Plan ၊ Detail Design Drawing များအတိုင်း တည်ဆောက်သွားပြီး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှလည်း ကန့်ကွက်ရန်မရှိပါက လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းအနေဖြင့် LPG ကို ပြည်ပမှတင်သွင်း၍ တင်ချဆိပ်ခံတံတားအပါအဝင် သိုလှောင်ကန်စခန်း (Terminal)ဖြင့် သိုလှောင်ဖြန့်ဖြူးခြင်းလုပ်ငန်းလိုင်စင်(က)ကို ခွင့်ပြုပေးနိုင်ပါကြောင်း အကြောင်းပြန်ကြားခဲ့ပြီးဖြစ်ပါသည်။ **(နောက်ဆက်တွဲ-က)**

၃။ ယခုအခါ CECA Gold Co.,Ltd အနေဖြင့် အဆိုပါနေရာတွင် LPG Terminal တည်ဆောက် ၍ LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Layout Plan ၊ Detail Design

Drawing များပူးတွဲ၍ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် Design ပြောင်းလဲတည်ဆောက်မည်ဆိုပါက လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းသို့ ပြန်လည်တင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကစ )
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ

နောက်ဆက်တွဲ(က)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

**မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း**

နေပြည်တော်

Tel: 067-411194, Fax: 067-411094

E - mail:mpeho@mptmail.net.mm

စာအမှတ်၊ ၁၅၀၄(၅)/ဓငရ/ ၁၇ - ၁၈( ၄၄၀ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်

သို့

Managing Director

Star High Group Co.,Ltd

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

အကြောင်းအရာ။ LPG တင်သွင်းဖြန့်ဖြူးရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလာခြင်းကိစ္စ

ရည်ညွှန်းချက် ။ မြန်မာစီးပွားရေးကော်ပိုရေးရှင်း ၏ ၂၂-၈-၂၀၁၇ ရက်စွဲပါ လျှောက်ထားစာ

၁။ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ Star High Group Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဒေသ၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်သင်္ဘောဖျက်စက်ရုံ (သီလဝါ)၊ ဂရုံကွင်း၊ ၁(င)၊ အမှတ် (၆၀၇)၊ ဧရိယာ (၈) ဧက ပေါ်တွင် LPG တင်သွင်းဖြန့်ဖြူးရေးလုပ်ငန်းများ လုပ်ကိုင်ခွင့်ပြုပါရန် Layout Plan ၊ Detail Design Drawing များအား ကုမ္ပဏီမှတ်ပုံတင်နှင့်အတူ ရည်ညွှန်းချက်ပါစာဖြင့် အဆိုပြု လျှောက်ထားလာပါသည်။

၂။ အဆိုပြုတင်ပြလာသော Layout Plan နှင့် Detail Design Drawing များအား စစ်ဆေးရာ ရေနံဓာတ်ငွေ့ရည် ၃,၃၀၀ ကုဗမီတာဆံ့ Semi Underground, LPG သိုလှောင်ကန်(၂)လုံး၊ Cylinder Filling Station၊ LPG Truck Loading Bay၊ LPG Truck Parking Bay၊ Compressor ၊ Pump House၊ ရုံးအဆောက်အဦနှင့် မီးသတ်ကန် စသည်တို့ ပါဝင်ပြီး ၎င်းသိုလှောင်ကန်နှင့် အဆောက်အဦများသည် မိမိတို့သတ်မှတ်ထားသည့် စည်းကမ်းချက်များတွင် ပါဝင်သည့် လုံခြုံမှုအတွက် သတ်မှတ်အကွာအဝေးများ (Safety Distances) ရှိပြီး ဘေးအန္တရာယ်ကင်းရှင်းရေးအတွက် လိုက်နာရမည့် အစီအမံများကိုလည်း စနစ်တကျ တည်ဆောက် တပ်ဆင်မည်ဖြစ်ကြောင်း စိစစ် တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Star High Group Co.,Ltd မှ အဆိုပြုတင်ပြထားသည့် ပူးတွဲပါ Layout Plan၊ Detail Design Drawing များအတိုင်း တည်ဆောက်သွားပြီး ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှလည်း ကန့်ကွက်ရန်မရှိပါက လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒ လုပ်ငန်းအနေဖြင့် LPG ကို ပြည်ပမှတင်သွင်း၍ တင်ချဆိပ်ခံတံတား အပါအဝင် သိုလှောင်စခန်း (Terminal) ဖြင့် သိုလှောင်ဖြန့်ဖြူးခြင်းလုပ်ငန်းလိုင်စင် (က) ကို ခွင့်ပြုပေးနိုင်ပါသဖြင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

သန့်စင်

ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

ရေနံထွက်ပစ္စည်းများတင်သွင်းသိုလှောင်သယ်ယူချက်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများ ထိန်းသိမ်းကြီးကြပ်ရေးဆပ်ကော်မတီ(ရန်ကုန်တိုင်းဒေသကြီး)

ရေနံထွက်ပစ္စည်းများတင်သွင်းသိုလှောင်သယ်ယူဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများ ထိန်းသိမ်းကြီးကြပ်ရေးဆပ်ကော်မတီ(ရန်ကုန်တောင်ပိုင်းခရိုင်)



| ဝင်စာအမှတ် | MA ·၁၀၅၀ |
| --- | --- |
| ရက်စွဲ | 5·11·1 |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

ပဆ-၅၇၇
၆.၁၁.၁၈

စာအမှတ်၊ ပဆ-(၃)/(သီလဝါ-MPA)/၂၀၁၈ ( ၄ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၁ ရက်

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၁၀-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၅(စ)/ခ-၀၁၅/၂၀၁၈(၃၅၅)

၁။ CECA Gold Co., Ltd က ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်၊ သီတာမြိုင်ရပ်ကွက်၊ သဘော်ဖျက်စက်ရုံ(သီလဝါ)၊ မြေကွက်အမှတ်-၆၀၇၊ ဂရံဝန်း၊ ဦးပိုင်အမှတ်၊ ၁/င၊ ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် LPG Terminal တည်ဆောက်ပြီး LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် ကန့်ကွက်ရန် ရှိ-မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာသည့်ကိစ္စ ဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ CECA Gold Co., Ltd.က ကျောက်တန်းမြို့နယ်၊ သီတာမြိုင်ရပ်ကွက်၊ သဘော်ဖျက်စက်ရုံ(သီလဝါ)၊ မြေကွက်အမှတ်-၆၀၇၊ ဂရံဝန်း၊ ဦးပိုင်အမှတ်၊ ၁/င ရှိ မြေဧရိယာ (၈)ဧကကို ကျောထောက်နောက်ခံပြု၍ သီလဝါဆိပ်ကမ်းဒေသမြစ်ကမ်းနဖူးတွင် LPG Terminal တည်ဆောက်မည့်နေရာသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ရေဒေသဧရိယာ (Port Limit) အတွင်း တည်ရှိပါသည်။

၃။ CECA Gold Co., Ltd သည် သီလဝါဆိပ်ကမ်းဒေသ မြစ်ကမ်းနဖူးတွင် ၁၂၉.၆ မီတာနှင့် ၁၇၄ မီတာအကျယ်အဝန်းရှိ ကွန်ကရစ်ဆိပ်ခံတံတားကို တည်ဆောက်မည်ဖြစ်သဖြင့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ရေဒေသဧရိယာ ၂၂၅၅၀.၄ စတုရန်းမီတာ (၅.၅၇ ဧက)ကို အသုံးပြုသွားရန်ရှိကြောင်း တွေ့ရှိရပါသည်။

၄။ ထို့ကြောင့် ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိသော မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသဧရိယာ (၅.၅၇ ဧက)အတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ငွေကျပ်သိန်း ၁၅၀ နှုန်းဖြင့် ကျသင့်သော မြေအသုံးချမှုပရီမီယံကြေး ငွေကျပ် ၈၃,၅၅၀,၀၀၀/- (ကျပ် ရှစ်ဆယ့်သုံးသန်း ငါးသိန်း ငါးသောင်း တိတိ)ကို ပေးဆောင်စေသင့်ပါသည်။

\\Moldata\F\WATER\2018\PA SA (3) PROJECT\MPA\PA SA (THILAWA).Doc

၅။ ထို့အပြင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသော ရေဒေသလွှမ်းခြုံဧရိယာ (၅.၅၇ ဧက)အတွက် တစ်ဧကလျှင် ငွေကျပ် ၅၄၀၅၄၀/- နှုန်းဖြင့် ကျသင့်သည့် ငွေကျပ် ၃,၀၁၀,၈၀၇/- (ကျပ် သုံးသန်း တစ်သောင်း ရှစ်ရာ့ခုနှစ် တိတိ) ကို လစဉ်ရေဒေသငှားရမ်းခအဖြစ် ပေးဆောင်စေသင့်ကြောင်း တွေ့ရှိရပါသည်။

၆။ CECA Gold Co., Ltd အနေဖြင့် သီလဝါဆိပ်ကမ်းဒေသတွင် LPG သိုလှောင်ကန်များ တည်ဆောက်သည့်အခါ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန ရေနံထွက်ပစ္စည်းများ တင်သွင်းသိုလှောင်ချက်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းများ ထိန်းသိမ်းကြီးကြပ်ရေးကော်မတီ၏ စည်းကမ်းသတ်မှတ်ချက်များ၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနရှိ သတ္တုတွင်းဦးစီးဌာန၏ သဘောထားမှတ်ချက်၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်တို့နှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည် ဖြစ်ပါသည်။

၇။ သို့ဖြစ်ပါ၍ CECA Gold Co., Ltd က ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်၊ သီတာမြိုင်ရပ်ကွက်၊ သဘော်ဖျက်စက်ရုံ(သီလဝါ)၊ မြေကွက်အမှတ်-၆၀၇၊ ဂရံဝန်း၊ ဦးပိုင်အမှတ်၊ ၁/c ရှိ မြေဧရိယာ (၈)ဧကကို ကျောထောက်နောက်ခံပြု၍ သီလဝါဆိပ်ကမ်းဒေသ၊ မြစ်ကမ်းနဖူးရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသော ရေဒေသဧရိယာတွင် LPG Terminal နှင့် LPG သိုလှောင်ကန်များ တည်ဆောက်ပြီး LPG တင်သွင်းသိုလှောင်ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အထက်စာပိုဒ် (၄) နှင့် (၅)ပါ မြေအသုံးချမှုပရီမီယံကြေးနှင့် လစဉ်ရေဒေသငှားရမ်းခတို့ကို ပေးဆောင်စေရမည်ဖြစ်ပြီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် CECA Gold Co., Ltd တို့အကြား ပဋိညာဉ်စာချုပ်နှင့် ရေဒေသငှားရမ်းခြင်း စာချုပ်များချုပ်ဆိုရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ
- မျှောစာတွဲ

\\Mofdata\F\WATER\2018\PA SA (3) PROJECT\MPA\PA SA (THILAWA).Doc




နောက်ဆက်တွဲ-ဂ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၂ (၄၄) / စိုက် မွေး
ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပေးပို့ခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ယင်း၏ ၁၇.၁၀.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ခ-၀၁၅/၂၀၁၈(၃၅၄)

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CECA Gold Co.,Ltd တည်ထောင်ပြီး ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းပိုင်၊ သီတာမြိုင်ရပ်ကွက်၊ သဘော်ဖျက်စက်ရုံ (သီလဝါ)၊ မြေကွက်အမှတ်-၆၀၇၊ ဂရံဝင်း၊ ဦးပိုင်အမှတ်-၁/င၊ ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် LPG Terminal တည်ဆောက်ပြီး LPG တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာမှုအပေါ် သက်ဆိုင်ရာဝန်ကြီးဌာနများ၏ လုပ်ထုံးလုပ်နည်းများနှင့်အညီဆောင်ရွက်သွားမည်ဖြစ်ပါက ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

၁၃|၁၂|၂၀၁၈

ဝန်ကြီးချုပ်(ကိုယ်စား)
(ဟံထွန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေး၊ သစ်တောနှင့်စွမ်းအင်ဝန်ကြီး)

မိတ္တူကို
လက်ခံစာတွဲ
မျှောစာတွဲ